အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် (Shwe Myint Mo Tun Stone Manufacturing Co., Ltd.) မှလမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေးကုမ္ပဏီ လီမိတက်<br>ဦးဇော်မင်းသန့် (အဘ-ဦးအေးသန့်) |
| ၂။ | ဖွဲ့စည်းမှုပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၃။ | လုပ်ငန်းအမျိုးအစား | - လမ်းခင်းကျောက်အမျိုးမျိုး တူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၄။ | တည်နေရာနှင့် မြေဧရိယာ | - မွန်ပြည်နယ်၊သထုံခရိုင်၊ ပေါင်မြို့နယ်၊ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ်- ၅၉ ရှိမြေ (၅၀) ဧက |
| | မြေပိုင်ရှင် | - သယံဇာတ နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ သစ်တော ဦးစီးဌာန |
| | နှစ်စဉ်မြေငှားရမ်းခ | - ၁ ဧက ကျပ် - ၁၅,၀၀၀/-<br>၅၀ ဧက ကျပ် - ၇၅၀,၀၀၀/- |
| | လုပ်ငန်းအာမခံငွေ | - ၁ ဧက ကျပ် - ၅၀,၀၀၀/-<br>- ၅၀ ဧက ကျပ် - ၂,၅၀၀,၀၀၀/-<br>သစ်တော ဦးစီးဌာနသို့ စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။ |
| | မြေအသုံးချမှုအာမခံငွေ<br>(Land Use Premium) | - ၁ ဧက ကျပ် - ၅၀,၀၀၀/-<br>- ၅၀ ဧက ကျပ် - ၂,၅၀၀,၀၀၀/-<br>- ပထမအရစ် စုစုပေါင်း အာမခံငွေ၏ ၃၀% ကျပ် ၇၅၀,၀၀၀/- သစ်တော ဦးစီးဌာနနှင့်လမ်းခင်းကျောက် ထုတ်လုပ်ခြင်း လုပ်ငန်းဆိုင်ရာ သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးရက်(၃၀)အတွင်း ပေးသွင်းရမည်။<br>- ဒုတိယအရစ် စုစုပေါင်း အာမခံငွေ၏ ၃၀% ကျပ် ၇၅၀,၀၀၀/- သစ်တော ဦးစီးဌာနနှင့်လမ်းခင်းကျောက် ထုတ်လုပ်ခြင်း လုပ်ငန်းဆိုင်ရာ သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီး (၆) လအတွင်း ပေးသွင်းရမည်။<br>- တတိယအရစ် စုစုပေါင်း အာမခံငွေ၏ ၄၀% ကျပ် ၁,၀၀၀,၀၀၀/- သစ်တောဦးစီးဌာနနှင့် လမ်းခင်းကျောက် ထုတ်လုပ်ခြင်း လုပ်ငန်းဆိုင်ရာ သဘောတူစာချုပ် |

| | | |
|---|---|---|
| | | လက်မှတ်ရေးထိုးပြီး(၂၄)လအတွင်း ပေးသွင်းရမည်။ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | ကျပ် ၅,၈၃၆.၁၇ သန်း(အမေရိကန်ဒေါ်လာ ၃.၉၉ သန်း အပါဝင်) |

| | **ကျပ်ငွေ (သန်း)** | **နိုင်ငံခြားငွေ (US$သန်း)** | **စုစုပေါင်းထည့်ဝင်မှု (ကျပ်သန်း)** |
|---|---|---|---|
| ငွေသား | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| စက်ပစ္စည်း(ပြည်ပ) | - | ၂.၉၃ | ၃,၉၅၅.၅၀ |
| (ပြည်တွင်း) | ၁၄၈.၀၀ | - | ၁၄၈.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၂၀.၉၇ | - | ၂၀.၉၇ |
| မော်တော်ယာဉ် (ပြည်ပ) | - | ၁.၀၆ | ၁,၄၃၁.၀၀ |
| (ပြည်တွင်း) | ၇၂.၀၀ | - | ၇၂.၀၀ |
| ရုံးသုံးပစ္စည်း | ၁၂.၇၀ | - | ၁၂.၇၀ |
| Office, Dormitory Building and Warehouse building | ၉၅.၀၀ | - | ၉၅.၀၀ |
| **စုစုပေါင်း** | **၄၄၉.၆၇** | **၃.၉၉** | **၅,၈၃၆.၁၇** |

(အမေရိကန်တစ်ဒေါ်လာ = ၁,၃၅၀ ကျပ်)

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၇။ | လုပ်ငန်း/စာချုပ် သက်တမ်း | - ၃၀ နှစ် |
| ၈။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၉။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - ၈၅ ဦး |
| | ပြည်တွင်း | - ၈၅ ဦး (အမြင့်ဆုံးလစာ - ၁,၀၀၀,၀၀၀ ကျပ်<br>အနိမ့်ဆုံးလစာ - ၁၅၀,၀၀၀ ကျပ်) |
| ၁၀။ | အမျိုးအစားနှင့်နှုန်းထား | |

| **ထုတ်လုပ်မည့်အမျိုးအစား** | **ထုတ်လုပ်မည့် တန်ပေါင်း** | **တစ်တန်ဈေးနှုန်း (ကျပ်)** |
|---|---|---|
| Crushed Rock 0mm-5mm | ၁၁,၀၀၀ | ၂၀,၀၀၀ |
| Crushed Rock 5mm-25mm | ၁၅,၀၀၀ | ၃၃,၀၀၀ |
| Crushed Rock 25mm-50mm | ၁၃,၀၀၀ | ၂၅,၀၀၀ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(သ)/ ခ-၀၀၁/၂၀၁၈(၈၃၃)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၆ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြမည့် အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် (Shwe Myint Mo Tun Stone Manufacturing Co., Ltd.) မှ လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် (Shwe Myint Mo Tun Stone Manufacturing Co., Ltd.) မှ မွန်ပြည်နယ်၊ သထုံခရိုင်၊ ပေါင်မြို့နယ်၊ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ်(၅၉)ရှိ မြေ ၅၀ ဧကတွင် လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ တစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်တို့အကြား ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထား မှတ်ချက်နှင့်အညီချုပ်ဆိုမည့် လမ်းခင်းကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်မိတ္တူ၊ ဒါရိုက်တာစာရင်း၊သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်းများပူးတွဲ တင်ပြထားပါသည်။

၃။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုမည့် စာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်မှ တစ်နှစ်လျှင် တစ်ဧကအတွက်မြေငှားရမ်းခ မြန်မာကျပ်ငွေ ၁၅,၀၀၀/-နှုန်းဖြင့် ဧက ၅၀ အတွက် ၇၅၀,၀၀၀/- မော်လမြိုင်မြို့နယ်၊ မြန်မာ့စီးပွားရေးဘဏ် ငွေစာရင်းအမှတ်၊ MD - 010756 သို့ ပေးသွင်းမည် ဖြစ်ပါသည်။

(ခ) ကုမ္ပဏီသည်ခွင့်ပြုထားသည့် မြေဧရိယာတွင် လမ်းခင်းကျောက် တူးဖော် ထုတ်လုပ်ရာ၌ ကျောက်(၁) ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅% ဖြင့် စုစုပေါင်း ထုတ်လုပ်လမ်းခင်းကျောက်ပမာဏ(ကျင်း)အတွက် ကျသင့်သောအခွန်ငွေကို သတ်မှတ် သည့် နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

(ဂ) ကုမ္ပဏီမှ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ်(၅၉)ရှိ မြေဧရိယာ(၅၀) ဧကတွင်လမ်းခင်း ကျောက်ထုတ်လုပ်ခြင်းအတွက် လုပ်ငန်းအာမခံငွေအဖြစ် တစ်ဧကလျှင် ကျပ် ၅၀,၀၀၀/-နှုန်းဖြင့် စုစုပေါင်း ၂,၅၀၀,၀၀၀/- ကို သစ်တောဦးစီး ဌာနသို့သတ်မှတ်ထားသော နည်းလမ်းဖြင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနတို့ချုပ်ဆိုမည့် သဘောတူစာချုပ်အရ နှစ် ၃၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) ဖြစ်ပြီး လုပ်ငန်းတည်ဆောက်မှု ကာလမှာ ၃ နှစ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၅,၈၃၆.၁၇ သန်း (အမေရိကန်ဒေါ်လာ ၃.၉၉ သန်းအပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | ကျပ်ငွေ (သန်း) | နိုင်ငံခြားငွေ US$ (သန်း) | စုစုပေါင်းထည့်ဝင်မှု ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| စက်ပစ္စည်း (ပြည်ပ) | - | ၂.၉၃ | ၃,၉၅၅.၅၀ |
| (ပြည်တွင်း) | ၁၄၈.၀၀ | - | ၁၄၈.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၂၀.၉၇ | - | ၂၀.၉၇ |
| မော်တော်ယာဉ် (ပြည်ပ) | - | ၁.၀၆ | ၁,၄၃၁.၀၀ |
| (ပြည်တွင်း) | ၇၂.၀၀ | - | ၇၂.၀၀ |
| ရုံးသုံးပစ္စည်း | ၁၂.၇၀ | - | ၁၂.၇၀ |
| Office, Dormitory Building and Warehouse building | ၉၅.၀၀ | - | ၉၅.၀၀ |
| **စုစုပေါင်း** | **၄၄၉.၆၇** | **၃.၉၉** | **၅,၈၃၆.၁၇** |

(အမေရိကန် တစ်ဒေါ်လာ = ၁,၃၅၀ ကျပ်)

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်း ဝန်ထမ်း ၈၅ ဦး ခန့်ထားမည်ဖြစ်ပြီးအနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၀၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် အမျိုးအစားနှင့် ထုတ်လုပ်မည့်တန်ပေါင်းနှင့် တစ်တန်ဈေးနှုန်းမှာ အောက်ပါအတိုင်း တင်ပြထားပါသည် -

| ထုတ်လုပ်မည့်အမျိုးအစား | ထုတ်လုပ်မည့် တန်ပေါင်း | တစ်တန် ဈေးနှုန်း(ကျပ်) |
|---|---|---|
| Crushed Rock 0mm-5mm | ၁၀,၀၀၀ | ၂၀,၀၀၀ |
| Crushed Rock 5mm-25mm | ၁၅,၀၀၀ | ၃၃,၀၀၀ |
| Crushed Rock 25mm-50mm | ၁၃,၀၀၀ | ၂၅,၀၀၀ |

၈။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် United Amara Bank တွင် ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်နေ့ ရက်စွဲဖြင့် ကျပ် ၉၃၀,၀၀၀, ၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းအား၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၀ ရက် နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃၂/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မွန်ပြည်နယ်အစိုးရအဖွဲ့သို့၂၁-၁၁-၂၀၁၇ မှ ၈-၁၂-၂၀၁၇ ရက်နေ့အတွင်း သဘောထားမှတ်ချက် ပြန်ကြားပေးရန် တောင်းခံခဲ့သော်လည်း ပြန်ကြားခြင်း မပြုသည့်အတွက် သဘောတူသည်ဟု မှတ်ယူပြီး ကော်မရှင်သို့ တင်ပြရခြင်း ဖြစ်ပါသည်။

(ဂ) လုပ်ငန်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက်အား နောက်ဆက်တွဲဖြင့် ပူးတွဲ တင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောက်လုပ်ရေး လုပ်ငန်းသုံး ခွဲကျောက်များ တူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးခြင်းလုပ်ငန်းအား မွန်ပြည်နယ်တွင် Long Life Aggregate Mining Co., Ltd. တနင်္သာရီတိုင်းဒေသကြီးတွင် မြန်ရွှေပြည် သတ္တုတူးဖော်ရေးလီမိတက်၊ မွန်ပြည်နယ်တွင် လမ်းခင်းကျောက် ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား Linn Shwe Sin Co., Ltd.၊ Htoo Naing Lin Co., Ltd.နှင့် Rehmonnya United Co., Ltd. တိုအား လည်းကောင်း အသီးသီးခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် (Shwe Myint Mo Tun Stone Manufacturing Co., Ltd.) မှ လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ- မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ (၁၉၃/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၃ ရက်

M4-1028
23.11.17

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Shwe Myint Mo Tun Stone Manufacturing Co., Ltd. မှ လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(သ)/ ခ-၀၀၁/ ၂၀၁၇ (၅၁၄)

၁။ ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် (Shwe Myint Mo Tun Stone Manufacturing Co., Ltd.) မှ မွန်ပြည်နယ်၊ သထုံခရိုင်၊ ပေါင်မြို့နယ်၊ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ်- ၅၉ ရှိ မြေ ၅၀ ဧက (၂၀၂,၃၄၂.၈၀ စတုရန်းမီတာ) တွင် လမ်းခင်းကျောက်အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် သစ်တောဦးစီးဌာနနှင့် ရွှေမြင့်မိုရ်ထွန်းကုမ္ပဏီလီမိတက်တို့အကြား သစ်တောကြိုးဝိုင်းမြေ ငှားရမ်းမှု မူလသဘောတူ စာချုပ်နှင့် နှစ်ရှည် နှစ် (၃၀) မြေငှားရမ်း၍ လမ်းခင်းကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းဆိုင်ရာ သဘောတူစာချုပ် ထပ်မံချုပ်ဆိုမည့် စာချုပ်မူကြမ်း ဖော်ပြပါရှိပါကြောင်း၊

(ဂ) စာချုပ်တွင်လုပ်ငန်းလုပ်ကိုင်သူမှလုပ်ငန်းခွင့်ပြုမြေပမာဏ၏ ၂၀% နှင့်ညီမျှသောမြေတွင် ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပေးရန် ဝန်ခံကတိဖော်ပြပါရှိကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ E Guard အဖွဲ့နှင့် ၂၀၁၆ ခုနှစ်တွင် ရေးဆွဲဆောင်ရွက်ခဲ့ပြီးဖြစ်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) ဖော်ပြပါရှိပါကြောင်း၊

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း သက်ဆိုင်ရာဌာနများမှ ထောက်ခံစာနှင့် ကန့်ကွက်ရန်မရှိကြောင်းစာများ ဖော်ပြပါရှိပါကြောင်း၊

(စ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Shwe Myint Mo Tun Stone Manufacturing Co., Ltd. မှ လမ်းခင်းကျောက်အမျိုးမျိုး တူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများနှင့်အရည်များကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့်လေထုညစ်ညမ်းစေခြင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် လမ်းခင်းကျောက်များ တူးဖော်ထုတ်လုပ်ရာတွင် တည်ဆောက်ရေးလုပ်ငန်းများနှင့် တူးဖော်ရေးအတွက် မြေနေရာကျယ်ပြန့်စွာ အသုံးပြုခြင်း၊ အပေါ်ယံမြေလွှာများ ဖယ်ရှားရခြင်း၊ လွန်တူးဖော်ခြင်း၊ မိုင်းခွဲခြင်း၊ အဆိပ်သင့်နိုင်သည့် ဓါတုဗေဒစွန့်ပစ်ပစ္စည်းများ စနစ်တကျမစွန့်ပစ်ခြင်း စသည်တို့ကြောင့် လူမှုရေး၊ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုများ ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ယာဉ်၊ ယန္တယားများ အသုံးပြုခြင်းမှထွက်ရှိလာမည့် စက်ဆီ၊ ချောဆီများနှင့်ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းသည် ယမ်းသုံး၍ မိုင်းခွဲခြင်း၊ စက်ယန္တရားကြီးများ အသုံးပြုဆောင်ရွက်မည့် ကျောက်ထုတ်လုပ်သည့် လုပ်ငန်းဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် ပြည်သူတို့၏ ကျန်းမာရေးကို ထိခိုက်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Shwe Myint Mo Tun Stone Manufacturing Co., Ltd. မှ လမ်းခင်းကျောက်အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသား

တင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင်နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(စ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) ရေးဆွဲပြီးဖြစ်ပါက သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ဝန်ကြီးဌာနမှ အတည်ပြုချက်ရယူရေး စီစဉ်ဆောင်ရွက်ပါရန်၊

၂၁/၁၁/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

21/11/17

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်
ရုံးလက်ခံ






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၄ - ၃ / အဖရ(မွန်)(၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ၊ ဇန်နဝါရီလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁-၁၁-၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက- ၅(သ)/ခ-၀၀၁/၂၀၁၇(၅၁၅)

၁။ ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက်ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် ( Shwe Myint Mo Tun Stone Manufacturing Co.,Ltd) မှ မွန်ပြည်နယ်၊ သထုံခရိုင်၊ ပေါင်မြို့နယ်၊ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ် (၅၉)၊ မြေဧရိယာ (၅၀)ဧကတွင် လမ်းခင်းကျောက်အမျိုးမျိုး တူးဖော်ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခြင်းနှင့်ပတ်သက်၍ မွန်ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည် ။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သထုံခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ စိစစ်စေခဲ့ရာ လုပ်ငန်းလုပ်ကိုင်မည့်နေရာသည် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ ဒေသခံများအလုပ်အကိုင်အခွင့်အလမ်းရရှိပြီး ဒေသစီးပွားရေးကို တစ်ဖက်တစ်လမ်းမှ ဖွံ့ဖြိုးတိုးတက်မှုတို့အတွက် အထောက်အကူဖြစ်နိုင်ခြင်း၊ ဖော်ပြပါနေရာအား လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် လက်ရှိအခြေအနေတွင် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်းနှင့် လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေအမျိုးအစားဖြစ်ကြောင်း တင်ပြလာပါသဖြင့် (၁၉-၁-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ် (၇၄)အရ လမ်းခင်းကျောက်အမျိုးမျိုးတူးဖော်ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် အဆိုပါကုမ္ပဏီသည် ၂၀၁၂ ခုနှစ်တွင် တရားဝင်မှတ်ပုံတင်ပြီး ၂၀၁၈ ခုနှစ်အထိ ပြည်နယ်သစ်တောဦးစီးဌာနနှင့် သထုံခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ အခွန်ထမ်းဆောင်ပြီး ဆောင်ရွက်လျှက်ရှိပါသဖြင့် ခွင့်ပြုမိန့်ရရှိပြီးပါက (၅)နှစ်အခွန်ကင်းလွတ်ခွင့်ပြုရန်သင့်မသင့် ထည့်သွင်းစဉ်စားသင့်ပါကြောင်း ညှိနှိုင်းအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(လှဝင်းတင်၊ အတွင်းရေးမှူး)

မိတ္တူကို

စီမံကိန်း၊ ဘဏ္ဍာရေး၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီး

လှည့်လည်စာတွဲ

ရုံးလက်ခံ